New Hope (Mandalay) Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍
**လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း**

ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန် အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း (production, processing and marketing of all kinds of poultry feeds, animal feeds, shrimp feeds and fish feeds)

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း | | ၄-၁၁-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၇-၁၁-၂၀၁၉ | | |
| | - စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service)<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၇-၁၁-၂၀၁၉<br>၇-၁၁-၂၀၁၉<br>၁၈-၁၂-၂၀၁၉ | ၂-၁၂-၂၀၁၉<br>၁၉-၁၁-၂၀၁၉<br>၇-၁-၂၀၂၀ | |
| ၃ | ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်း လုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ EIA နှင့် EMP ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါဖြင့် ကုမ္ပဏီသို့ အဆိုပြုချက် တင်ပြရန် အကြောင်းကြားခြင်း | ၂၀-၁၁-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၁၇)ရက် | | |

| | | | | |
|---|---|---|---|---|
| ၄ | **ကုမ္ပဏီမှ အဆိုပြုချက် တင်ပြလာခြင်း** | | ၂၅-၁၁-၂၀၁၉ | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၄၁/၂၀၁၉ (၂-၁၂-၂၀၁၉) | | |
| ၆ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၄-၁၂-၂၀၁၉ | | |
| ၇ | အဆိုပြုချက်အပေါ် ပြင်ဆင် တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၁၁-၁၂-၂၀၁၉ | ၃၁-၁၂-၂၀၁၉ | |
| ၈ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၂/၂၀၂၀ (၂၄-၁-၂၀၂၀) | | ရင်းနှီးမြှုပ်နှံသူ များသည် တရုတ်နှစ်ကူး ပြန်သွားပါသဖြင့် အစည်းအဝေး မတက်ရောက် နိုင်ခြင်း ဖြစ်ပါ သည်။ |
| | **စုစုပေါင်းကြာမြင့်ရက်** | (၅၉) ရက် | | |

အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ်
ဆောင်ရွက်ပြီးစီးမှု

| | |
|---|---|
| ကုမ္ပဏီအမည် | New Hope (Mandalay) Company Limited |
| လုပ်ငန်းအမျိုးအစား | ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန် အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း (production, processing and marketing of all kinds of poultry feeds, animal feeds, shrimp feeds and fish feeds) |
| PATအကြိမ်/နေ့စွဲ | ၄၁/၂၀၁၉ (၂-၁၂-၂၀၁၉) |

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | လယ်ယာမြေ အခြားနည်းအသုံးပြုခွင့် တင်ပြရန်။ | ✔ | |
| ၂ | လျှပ်စစ်ဓာတ်အားရယူမည့် အစီအစဉ်၊ စီမံကိန်းတွင် အသုံးပြုမည့် ဘွိုင်လာနှင့် လောင်စာအမျိုးအစား၊ Single Line Diagram တို့ကို ဖော်ပြပေးရန်။ | ✔ | |
| ၃ | မြေငှားစာချုပ် (မူကြမ်း)တွင် မြေငှားရမ်းခ ပေးချေမှုနှင့် ပတ်သက်၍ ပြန်လည် စိစစ်တင်ပြရန်။ | ✔ | |
| ၄ | စက်ပစ္စည်းစာရင်းတွင် Transformer နှင့် Generator များ ပြည်ပမှ တင်သွင်းမည်ဖြစ်ပါက တိကျစွာ ဖော်ပြပေးရန်။ | ✔ | |
| ၅ | New Hope တိရိစ္ဆာန်အစာအိတ်ခွံများတွင် Labelling အား စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော Labelling လမ်းညွှန်ချက်များနှင့်အညီ ပြင်ဆင်တင်ပြရန်။ | ✔ | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Hope (Mandalay) Company Limited မှ ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - New Hope (Mandalay) Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Zhao Huarong (Chinese) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု New Hope Singapore Pte., Ltd. (Singapore) ၁၀၀% |
| | လုပ်ငန်းအမျိုးအစား | - ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း<br>(production, processing and marketing of all kinds of poultry feeds, animal feeds, shrimp feeds and fish feeds) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- (၂၁၆၊ ၂၁၉၊ ၂၂၀၊ ၂၂၁/၂)၊ ကွင်းအမှတ်- ၁၃၂၆-ဝတ္တကံ-အရှေ့၊ စကားအင်းကျေးရွာအုပ်စု၊ တံတားဦး မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - ဦးခိုင်ထွန်း |
| | မြေအကျယ်အဝန်း | - ဦးပိုင်အမှတ်(၂၁၉) ရှိ မြေ (၂.၁၇)ဧက<br>ဦးပိုင်အမှတ်(၂၂၁/၂) ရှိ မြေ (၂.၀၀)ဧက<br>ဦးပိုင်အမှတ်(၂၂၀) ရှိ မြေ (၂.၁၇)ဧက အနက် မြေ (၁.၁၇)ဧက နှင့် ဦးပိုင်အမှတ်(၂၂၀) ရှိ မြေ (၁.၀၀)ဧက<br>ဦးပိုင်အမှတ်(၂၁၆) ရှိ မြေ (၀.၄၂)ဧက<br>စုစုပေါင်း မြေ (၆.၇၆)ဧက [မြေ (၆.၆)ဧက + ၀.၁၆ ဧက Boundary Area] |
| ၄။ | မြေငှားရမ်းခ | - နှစ် ၃၀ အတွက် တစ်ဧကလျှင် မြေငှားရမ်းခနှုန်း ကျပ် ၃၀၀,၀၀၀,၀၀၀<br>နှစ် ၃၀ အတွက် မြေ (၆.၆) ဧက + (မြေ ၀.၁၆ ဧက boundary area not for paid) လျှင် မြေငှားရမ်းခနှုန်း ကျပ် ၁,၉၈၀,၀၀၀,၀၀၀ |

မြေငှားရမ်းအသုံးပြုခွင့် သက်တမ်း - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ်

၅။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ၃၀ နှစ်

တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ - ၂ နှစ်

၆။ စုစုပေါင်းမတည်ငွေရင်း - အမေရိကန်ဒေါ်လာ ၁၀.၀၀၀ သန်း (ချေးငွေ US$ ၄.၀၀ သန်း အပါအဝင်)

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်မှု (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| - ငွေသား | ၁.၂၁၃ | ၄.၀၀၀ | ၅.၂၁၃ |
| - စက်ပစ္စည်းနှင့် စက်ကိရိယာများ | ၄.၇၈၇ | - | ၄.၇၈၇ |
| **စုစုပေါင်း** | ၆.၀၀၀ | ၄.၀၀၀ | ၁၀.၀၀၀ |

၇။ ဝန်ထမ်းအင်အား - ၂၂၉ ဦး

ပြည်တွင်း - ၂၀၅ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ - ၂၄ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၇၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၂၀၀ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ် - ပြည်ပ ၂၀% နှင့် ပြည်တွင်း ၈၀%

ထုတ်လုပ်မှု (ပထမနှစ်မြောက်)

| စဉ် | အမျိုးအစား | အရေအတွက် (မက်ထရစ်တန်) | | ရောင်းချမည့် ဈေးနှုန်း (တစ်တန်လျှင်) | |
|---|---|---|---|---|---|
| | | Foreign ၂၀% | Local ၈၀% | US$ | ကျပ် |
| (က) | Boiler feed | ၂,၂၀၀ | ၈,၈၀၀ | ၆၀၀.၀၀ | ၉၀၀,၀၀၀.၀၀ |
| (ခ) | Layer feed | ၂,၀၀၀ | ၈,၀၀၀ | ၅၅၀.၀၀ | ၈၂၅,၀၀၀.၀၀ |
| (ဂ) | Duck feed | ၂,၀၀၀ | ၈,၀၀၀ | ၅၃၀.၀၀ | ၇၉၅,၀၀၀.၀၀ |
| (ဃ) | Swine feed | ၁,၇၀၀ | ၆,၈၀၀ | ၆၅၀.၀၀ | ၉၇၅,၀၀၀.၀၀ |
| (င) | Cattle and Dairy feed | ၆၀ | ၂၄၀ | ၆၀၀.၀၀ | ၉၀၀,၀၀၀.၀၀ |
| (စ) | Shrimp feed | ၂၀ | ၈၀ | ၈၅၀.၀၀ | ၁,၂၇၅,၀၀၀.၀၀ |
| (ဆ) | Fish feed | ၂၀ | ၈၀ | ၄၅၀.၀၀ | ၆၇၅,၀၀၀.၀၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၄၃၆,၅၈၅ kWh |
| ၁၀။ | အခြားတင်ပြချက် | - မြေ အထောက်အထားအဖြစ် ဦးခိုင်ထွန်း၊ ဒေါ်ချစ်၊ ဦးတင့်ဝေ၊ ဒေါ်နန်းသင်းစုငြိမ်း အမည်များဖြင့် ရရှိထားသည့် လယ်ယာမြေပုံစံ (၇) နှင့် မြေစာရင်းပုံစံ- ၁၀၅ အထောက်အထားများ တင်ပြထားပါသည်။<br><br>- ဦးခိုင်ထွန်းမှ ဦးပိုင်အမှတ် (၂၁၆)ရှိ ယာမြေ (၀.၄၂)ဧက နှင့် ဦးပိုင်အမှတ် (၂၁၉၊ ၂၂၀၊ ၂၂၁/၂)ရှိ ယာမြေ (၅.၃၄)ဧက အတွက် မွေးမြူရေး အစာစက်ရုံလုပ်ငန်း မြေနေရာအဖြစ် အသုံးပြုရန်အတွက် လယ်ယာမြေအား အခြားနည်း အသုံးပြုခွင့် လျှောက်ထားခြင်းအား တိုင်းဒေသကြီး လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံထားသည့် အထောက်အထားများ တင်ပြထားပါသည်။<br><br>- ဦးပိုင်အမှတ် (၂၂၀)ရှိ မြေ (၁.၀၀)ဧက အား မူလဂရန်အမည်ပေါက် ဦးတင့်ဝေ အမည်အစား ဦးခိုင်ထွန်း အမည်သို့ ပြောင်းလဲ၍ မွေးမြူရေးအစာစက်ရုံ မြေနေရာအဖြစ် အသုံးပြုရန်အတွက် စက်မှု/စီးပွားဂရန် အမည်ပြောင်း ချထားပေးသည့် အထောက်အထား တင်ပြထားပါသည်။<br><br>- မြေပိုင်ရှင် ဦးခိုင်ထွန်း နှင့် New Hope (Mandalay) Company Limited တို့အကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) ကို တင်ပြထားပါသည်။<br><br>- ကုမ္ပဏီသည် မိခင် ကုမ္ပဏီ New Hope Singapore Pte., Ltc. မှ ချေးငွေ US$ ၄.၀၀၀ သန်းအား ချေးယူမည်ဖြစ်ပြီး Loan Agreement တင်ပြထားပါသည်။<br><br>-စက်ပစ္စည်းများအား ပြည်ပမှ Production Line အတွက် US$ ၂,၁၉၅,၈၀၉.၀၀ ၊ Silo System အတွက် US$ ၁,၆၄၇,၀၁၅.၀၀ ၊ Drying System အတွက် US$ ၄၄၈,၉၅၆.၅၂ နှင့် Electrical & Equipment အတွက် US$ ၄၉၅,၀၁၀.၀၀ ကို တရုတ်နိုင်ငံမှ တင်သွင်းမည်ဖြစ်ပြီး နှစ်အလိုက် တင်သွင်းမည့် ကုန်ကြမ်းစာရင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ငွေကြေး အထောက်အထားအဖြစ် New Hope Singapore Pte., Ltd. အမည်ဖြင့် စင်္ကာပူနိုင်ငံရှိ UOB ဘဏ်တွင် ၃၀-၉-၂၀၁၉ ရက်စွဲဖြင့် US$ ၅၉၈,၀၂၅.၆၇ ၊ HSBC ဘဏ် တွင် ၃၁-၈-၂၀၁၉ ရက်စွဲဖြင့် USD ၆,၀၀၀,၀၀၀.၀၀ ၊ BNP Paribas ဘဏ် တွင် ၃၀-၉-၂၀၁၉ ရက်စွဲဖြင့် USD ၁၃၈,၀၄၅.၅၅ ၊ New Hope (Mandalay) Co., Ltd. အမည်ဖြင့် KBZ Bank တွင် ၉-၉-၂၀၁၉ ရက်စွဲဖြင့် US$ ၄၉၉,၉၅၅.၀၀ နှင့် ကျပ် ၁၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ ဝန်ထမ်းများအတွက် ကျန်းမာရေးအစီအစဉ် နှင့် CSR Plan တို့ကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် တိရစ္ဆာန်အစားအစာများ၏ နမူနာပုံများနှင့် Brand အမျိုးအစား၊ အဆောက်အဦပုံများနှင့် Layout Plan များ တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 1080 တွင် အကျုံးဝင်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၅၈/၂၀၂၀( ၀၁၉ )
ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ် ဇန်နဝါရီလ ၁၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Hope (Mandalay) Company Limited မှ ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ စင်္ကာပူနိုင်ငံရှိ New Hope Singapore Pte., Ltd. မှ ၁၀၀% အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Hope (Mandalay) Company Limited မှ ဦးပိုင်အမှတ်- (၂၁၆၊ ၂၁၉၊ ၂၂၀၊ ၂၂၁/၂)၊ ကွင်းအမှတ်- ၁၃၂၆- ဝတ္တကံ-အရှေ့၊ စကားအင်းကျေးရွာအုပ်စု၊ တံတားဦးမြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ (၆.၇၆)ဧကအား ငှားရမ်း၍ ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးခိုင်ထွန်း နှင့် New Hope (Mandalay) Company Limited တို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း) နှင့် ဦးခိုင်ထွန်း၊ ဒေါ်ချစ်၊ ဦးတင့်ဝေ၊ ဒေါ်နန်းသင်းစုငြိမ်း အမည်များဖြင့် ရရှိထားသည့် လယ်ယာ မြေပုံစံ (၇) နှင့် မြေစာရင်းပုံစံ- ၁၀၅ အထောက်အထားများ၊ ဦးခိုင်ထွန်းမှ ဦးပိုင်အမှတ် (၂၁၆)ရှိ ယာမြေ (၀.၄၂)ဧက နှင့် ဦးပိုင်အမှတ် (၂၁၉၊ ၂၂၀၊ ၂၂၁/၂)ရှိ ယာမြေ (၅.၃၄)ဧက အတွက် မွေးမြူရေး အစာစက်ရုံလုပ်ငန်း မြေနေရာအဖြစ် အသုံးပြုရန်အတွက် လယ်ယာမြေအား အခြားနည်း အသုံးပြုခွင့် လျှောက်ထားခြင်းအား တိုင်းဒေသကြီး လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံထားသည့် အထောက်အထားများ နှင့် ဦးပိုင်အမှတ် (၂၂၀)ရှိ မြေ (၁.၀၀)ဧက အား မူလဂရန်အမည် ပေါက် ဦးတင့်ဝေ အမည်အစား ဦးခိုင်ထွန်း အမည်သို့ ပြောင်းလဲ၍ မွေးမြူရေးအစာစက်ရုံ မြေနေရာအဖြစ် အသုံးပြုရန်အတွက် စက်မှု/ စီးပွားဂရန် အမည်ပြောင်း ချထားပေးသည့် အထောက်အထား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် ဖြစ်ပါသည်။ နှစ် ၃၀ အတွက် တစ်ဧကလျှင် မြေငှားရမ်းခနှုန်း ကျပ် ၃၀၀,၀၀၀,၀၀၀ ဖြစ်ပြီး နှစ် ၃၀ အတွက် မြေ (၆.၆) ဧက + (မြေ ၀.၁၆ ဧက boundary area not for paid) လျှင် မြေငှားရမ်းခနှုန်း ကျပ် ၁,၉၈၀,၀၀၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ US$ ၁၀.၀၀၀ သန်း (ချေးငွေ US$ ၄.၀၀၀ သန်း အပါအဝင်) ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်မှု (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေသား | ၁.၂၁၃ | ၄.၀၀၀ | ၅.၂၁၃ |
| စက်ပစ္စည်းနှင့် စက်ကိရိယာများ | ၄.၇၈၇ | - | ၄.၇၈၇ |
| **စုစုပေါင်း** | ၆.၀၀၀ | ၄.၀၀၀ | ၁၀.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၂၀၅)ဦး နှင့် ပြည်ပဝန်ထမ်း (၂၄)ဦး စုစုပေါင်း ဝန်ထမ်းဦးရေ(၂၂၉)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၇၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၂၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ တိရစ္ဆာန်အစာအစာများကို ပြည်ပ ၂၀% နှင့် ပြည်တွင်း ၈၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (မက်ထရစ်တန်) | | ရောင်းချမည့် ဈေးနှုန်း (တစ်တန်လျှင်) | |
|---|---|---|---|---|---|
| | | Foreign ၂၀% | Local ၈၀% | US$ | ကျပ် |
| (က) | Boiler feed | ၂,၂၀၀ | ၈,၈၀၀ | ၆၀၀.၀၀ | ၉၀၀,၀၀၀.၀၀ |
| (ခ) | Layer feed | ၂,၀၀၀ | ၈,၀၀၀ | ၅၅၀.၀၀ | ၈၂၅,၀၀၀.၀၀ |
| (ဂ) | Duck feed | ၂,၀၀၀ | ၈,၀၀၀ | ၅၃၀.၀၀ | ၇၉၅,၀၀၀.၀၀ |
| (ဃ) | Swine feed | ၁,၇၀၀ | ၆,၈၀၀ | ၆၅၀.၀၀ | ၉၇၅,၀၀၀.၀၀ |
| (င) | Cattle and Dairy feed | ၆၀ | ၂၄၀ | ၆၀၀.၀၀ | ၉၀၀,၀၀၀.၀၀ |
| (စ) | Shrimp feed | ၂၀ | ၈၀ | ၈၅၀.၀၀ | ၁,၂၇၅,၀၀၀.၀၀ |
| (ဆ) | Fish feed | ၂၀ | ၈၀ | ၄၅၀.၀၀ | ၆၇၅,၀၀၀.၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်းနှင့် လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ ၆.၇၆ အနက် မြေဧရိယာ ၁.၀၀ ကေသာ စက်မှုစီးပွားမြေငှားဂရန် ရရှိထားပါသဖြင့် ကျန်မြေဧရိယာ ၅.၇၆ ကေအား စက်မှုစီးပွားမြေငှားဂရန် လျှောက်ထားဆောင်ရွက်သင့်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(က)

(ခ) စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာနမှ New Hope (Mandalay) Company Limited ၏ ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်း သဘာဝနှင့် ကိုက်ညီမှုရှိပါကြောင်းနှင့် လိုအပ်ချက်များ ဖြည့်ဆည်း ဆောင်ရွက်မည် ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ခ)

(ဂ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ New Hope (Mandalay) Company Limited ၏ မန္တလေးတိုင်းဒေသကြီး၊ တံတားဦးမြို့နယ်ရှိ မြေ (၆.၇၆)ကေအား ငှားရမ်း၍ ကြက်၊ ဘဲ အစားစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန် အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခြင်းဖြင့် ဒေသတွင်း တိရစ္ဆာန်အစားအစာ ထုတ်လုပ်မှု တိုးတက်လာခြင်း၊ ဒေသတွင်း မွေးမြူထုတ်လုပ်မှုဖွံ့ဖြိုးတိုးတက်ရေးကို အထောက်အကူဖြစ်ခြင်းများအပြင် ဒေသခံ များအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဖြစ်ပြီး မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန နှင့် ငါးလုပ်ငန်းဦးစီးဌာနတို့မှ ပြဌာန်းထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်ညွှန်ကြားချက်များနှင့် ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice-GAHP) နည်းစနစ်များနှင့် အညီ မွေးမြူမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။

နောက်ဆက်တွဲ(ဂ)

(ဃ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီး ဌာနမှ** ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း

အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း ပြန်ကြားလာပါသည်။

နောက်ဆက်တွဲ(ဃ)

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် New Hope Singapore Pte., Ltd. အမည်ဖြင့် စင်္ကာပူနိုင်ငံရှိ UOB ဘဏ်တွင် ၃၀-၉-၂၀၁၉ ရက်စွဲဖြင့် US$ ၅၉၈,၀၂၅.၆၇ ၊ HSBC ဘဏ်တွင် ၃၁-၈-၂၀၁၉ ရက်စွဲဖြင့် USD ၆,၀၀၀,၀၀၀.၀၀ ၊ BNP Paribas ဘဏ်တွင် ၃၀-၉-၂၀၁၉ ရက်စွဲဖြင့် USD ၁၃၈,၀၄၅.၅၅ ၊ New Hope (Mandalay) Co., Ltd. အမည်ဖြင့် KBZ Bank တွင် ၉-၉-၂၀၁၉ ရက်စွဲ ဖြင့် US$ ၄၉၉,၉၅၅.၀၀ နှင့် ကျပ် ၁၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ကုမ္ပဏီသည် မိခင်ကုမ္ပဏီ New Hope Singapore Pte., Ltd. မှ ချေးငွေ US$ ၄.၀၀၀ သန်း အား ချေးယူမည်ဖြစ်ပြီး Loan Agreement တင်ပြထားပါသည်။

၁၁။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်၊ ဝန်ထမ်းများအတွက် ကျန်းမာရေး အစီအစဉ် နှင့် CSR Plan ၊ ထုတ်လုပ်မည့် တိရစ္ဆာန်အစားအစာများ၏ နမူနာပုံများ ၊ Brand အမျိုးအစား၊ အဆောက်အဦပုံများ နှင့် Layout Plan များ တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဒီဇင်ဘာလ ၂ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄၁/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) စက်ပစ္စည်းများအား ပြည်ပမှ Production Line အတွက် US$ ၂,၁၉၅,၀၀၉.၀၀ ၊ Silo System အတွက် US$ ၁,၆၄၇,၀၁၅.၀၀ ၊ Drying System အတွက် US$ ၄၄၈,၉၅၆.၅၂ နှင့် Electrical & Equipment အတွက် US$ ၄၉၅,၀၁၀.၀၀ ကို တရုတ်နိုင်ငံမှ တင်သွင်းမည်ဖြစ်ပြီး နှစ်အလိုက် တင်သွင်းမည့် ကုန်ကြမ်းစာရင်းကိုလည်း တင်ပြထား ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-1080 တွင် အကျုံးဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Hope (Mandalay) Company Limited မှ ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

၁၁၊၁၂၊၁၉

ဥက္ကဋ္ဌ(ကိုယ်စား)

(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

မန္တလေးမြို့

စာအမှတ် ၊၂ / ၃ - ၄ / ၄ ဦး ၆ ( ၀၇၆ )

ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် ၊ ဇန်နဝါရီလ ၂၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇- ၁၁- ၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၂ / အ - ၀၅၀ / ၂၀၁၉ (၃၅၆)

စင်္ကာပူနိုင်ငံရှိ New Hope Singapore Pte.,Ltd မှ ၁၀၀ % အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Hope (Mandalay) Company Limited မှ ဦးပိုင်အမှတ် - (၂၁၆ ၊ ၂၁၉၊ ၂၂၀ ၊ ၂၂၁ / ၂)၊ ကွင်းအမှတ် - ၁၃၂၆ - ဝတ္တကံ-အ ရှေ့၊ စကားအင်းကျေးရွာအုပ်စု ၊ တံတားဦးမြို့နယ် ၊ ကျောက်ဆည်ခရိုင် ၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ ၆ . ၇၆ ဧကအား ငှားရမ်း၍ ကြက် ၊ ဘဲ အစားအစာ ၊ ငါး ၊ ပုဇွန် အစားအစာနှင့် တိရစ္ဆာန်အစားအစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်နှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုအပေါ် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် လုပ်ငန်းဆောင်ရွက်မည့်မြေဧရိယာ၆ . ၇၆ဧကအနက် မြေဧရိယာ ၁ . ၀၀ ဧကသာ စက်မှုစီးပွားမြေငှားဂရန်ရရှိထားပါသဖြင့် ကျန်မြေဧရိယာ ၅ . ၇၆ ဧကအား စက်မှုစီးပွားမြေငှားဂရန် လျှောက်ထားဆောင်ရွက်သင့်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဇာနည်အောင်
ဝန်ကြီးချုပ်

မိတ္တူကို

မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
New Hope (Mandalay) Company Limited
လုံခြုံလည်စာတွဲ / လက်ခံစာတွဲ

နောက်ဆက်တွဲ- ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စဘစ / စက်မှု -၂ / ၁၅ (၅၁၇/၂၀၁၉ )
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇.၁၁.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက- ၂ / အ - ၀၅၀ / ၂၀၁၉ ( ၃၅၇ )

၁။ New Hope (Mandalay) Company Limited. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ တံတားဦးမြို့နယ်၊ စကားအင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၃၂၆) ဝတ္တကံ-အရှေ့၊ ဦးပိုင်အမှတ်(၂၁၆၊ ၂၁၉၊ ၂၂၀၊ ၂၂၁/၂)ရှိ မြေ(၆.၇၆)ဧကတွင် ငှားရမ်း၍ ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လုပ်ငန်းနှင့် စပ်လျဉ်း၍ တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီခြင်းရှိ/မရှိအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကြက်၊ ဘဲအစားအစာ၊ ငါး၊ ပုစွန်အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းတွင် အသုံးပြုမည့် Brand New စက်ပစ္စည်း(21)Items ၊ (303)Nos နှင့် (2)Set တို့အား တရုတ်နိုင်ငံမှ တင်သွင်းမည်ဖြစ်ပါသည်။

( ခ ) တင်သွင်းမည့်စက်ပစ္စည်းများမှာ အစာကြိတ်စက်၊ အစာတောင့်စက်များပါဝင်ပြီး လုပ်ငန်းသဘာဝနှင့်ကိုက်ညီကြောင်း စိစစ်တွေ့ရှိရပြီး စက်ပစ္စည်းတန်ဖိုးများမှာ အနီးစပ်ဆုံး မှန်ကန်မှုရှိပါသည်။

( ဂ ) ကုန်ကြမ်းဖြစ်သော ပြောင်းဆံ၊ ဖွဲနု၊ ဂျုံဖွဲ၊ စပါး၊ ကျောက်မှုန့်၊ ဆန်ကွဲ၊ စားအုန်းဆီတို့အား ပြည်တွင်းမှ ဝယ်ယူအသုံးပြုမည်ဖြစ်ပြီး ပဲပုပ်၊ နေကြာနှင့် အရိုးမှုန့်တို့ကို ပြည်ပမှ ဝယ်ယူအသုံးပြုသွားမည် ဖြစ်ပါသည်။

(ဃ) စက်ရုံတည်ဆောက်ပြီးပါက Poultry Feed(31000 MT)၊ Animal Feed(8800 MT)၊ Shrimp Feed(100 MT) နှင့် Fish Feed(100 MT)တို့အား စတင်ထုတ်လုပ်ဖြန့်ချီသွားမည် ဖြစ်ပါသည်။

( င ) ထုတ်လုပ်မည့်နည်းစဉ်မှာ Close Type System ဖြစ်၍ Dust Collector များ လုံလောက်စွာ တပ်ဆင်ထားမည်ဖြစ်ပြီး Ventilation System ကိုလည်း စနစ်တကျ တပ်ဆင်မည်ဖြစ်၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့်အနံ့ဆိုးများ ထွက်ရှိမှု မရှိစေနိုင်ကြောင်း သိရှိရပါသည်။

( စ ) တင်သွင်းမည့် ဘွိုင်လာနှင့်ပတ်သက်၍ လိုအပ်သော အထောက်အထားများ ပြည့်စုံစွာပါရှိရန် လိုအပ်ပြီး တည်ဆဲဘွိုင်လာဥပဒေနှင့်အညီ အသုံးပြုခွင့်ရယူ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဆ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန၏ ခွင့်ပြုချက်ရရှိရေး ဆောင်ရွက်သွားရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ ညွှန်ကြားချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရန် လိုအပ်ပါသည်။

( ဇ ) တင်သွင်းမည့် စက်ပစ္စည်းများနှင့်ပတ်သက်၍ ကိုင်တွင်ထိန်းသိမ်းနည်းများအား သင်တန်းပို့ချပေးရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ New Hope (Mandalay) Company Limited. မှ ငှားရမ်း၍ ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှုရှိပါကြောင်းနှင့် အထက်ပါ လိုအပ်ချက်များ ဖြည့်ဆည်း ဆောင်ရွက်မည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ-ဂ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၀၀၃ /၂၀၂၀)

ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၂-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၅၈/၂၀၁၉(၄၁၀)

၁။ New Hope (Mandalay) Company Limited သည် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်-( ၂၁၆ ၊ ၂၁၉ ၊ ၂၂၀ ၊ ၂၂၁/၂ )၊ ကွင်းအမှတ်- (၁၃၂၆)၊ ဝတ္တက-အရှေ့၊ စကားအင်းကျေးရွာအုပ်စု၊ တံတားဦးမြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ (၆.၇၆) ဧက အား ငှားရမ်း၍ ကြက်/ ဘဲ အစားအစာ၊ ငါး/ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန နှင့် ငါးလုပ်ငန်းဦးစီးဌာန တို့၏ တိုင်းဒေသကြီးဦးစီးမှူးများမှ ခေါင်းဆောင်သော အဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးချက်များအရ-

(က) ကုမ္ပဏီမှ ငှားရမ်းထားသည့် မြေ (၆.၇၆) ဧကသည် မန္တလေးအပြည်ပြည်ဆိုင်ရာ လေဆိပ်သွားလမ်းဘေးတွင်ရှိပြီး လယ်ယာမြေအခြားနည်း အသုံးပြုခွင့်ရရှိထားပြီး ဖြစ်ပါကြောင်း၊

(ခ) လူနေရပ်ကွက်/ ကျေးရွာနှင့် ဝေးကွာ၍ ပတ်ဝန်းကျင်ထိခိုက်မှုနည်းနိုင်ပြီး လက်ရှိ တွင် မြေပြုပြင်ခြင်း လုပ်ငန်းနှင့် အုတ်တံတိုင်း ကာရံခြင်း လုပ်ငန်းများ ဆောင်ရွက် လျက်ရှိပါကြောင်း၊

(ဂ) (၃၁၅) KVA ထရန်စဖော်မာ (၁) ခု တည်ဆောက်ထားပြီးဖြစ်ပါကြောင်း စိစစ် တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ New Hope (Mandalay) Company Limited မှ မန္တလေးတိုင်းဒေသကြီး၊ တံတားဦးမြို့နယ်ရှိ မြေ (၆.၇၆) ဧက အား ငှားရမ်း၍ ကြက်/ ဘဲ အစားအစာ၊ ငါး/ ပုစွန် အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသတွင်း တိရစ္ဆာန်အစားအစာထုတ်လုပ်မှု တိုးတက်လာခြင်း၊ ဒေသတွင်း မွေးမြူထုတ်လုပ်မှုဖွံ့ဖြိုး တိုးတက်ရေးကို အထောက်အကူဖြစ်ခြင်းများအပြင် ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိနိုင်မည်ဖြစ်ပြီး မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနနှင့် ငါးလုပ်ငန်းဦးစီးဌာန တို့မှ ပြဋ္ဌာန်းထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်ညွှန်ကြားချက်များနှင့် ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandary Practice – GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
လှထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူ

- ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန
- ရုံးလက်ခံ
- မျှော

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁ ( ၈၂/၁၉ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **New Hope (Mandalay) Company Limited မှ ကြက်၊ ဘဲအစားအစာ၊ ငါး၊ ပုစွန်အစားအစာ၊ တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/အ-၀၅၀/၂၀၁၉(၃၅၅)

၁။ စင်္ကာပူနိုင်ငံရှိ New Hope Singapore Pte., Ltd. မှ ၁၀၀% အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Hope (Mandalay) Company Limited မှ ဦးပိုင်အမှတ်- ၂၁၆၊ ၂၁၉၊ ၂၂၀၊ ၂၂၁/၂၊ ကွင်းအမှတ်- ၁၃၂၆၊ ဝတ္တက်-အရှေ့၊ စကားအင်းကျေးရွာအုပ်စု၊ တံတားဦးမြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိမြေ ၆.၇၆ ဧက(၂၇,၃၅၆.၇၅ စတုရန်းမီတာ)အားငှားရမ်း၍ ကြက်၊ ဘဲ၊ အစားအစာ၊ ငါး၊ ပုစွန်အစားအစာနှင့် တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိ ရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

( ခ) အဆိုပြုလုပ်ငန်းအားမြေ (၂၇,၃၅၆.၇၅ စတုရန်းမီတာ)တွင် စက်ရုံအဆောက်အဦ (၃)လုံး၊ ဝန်ထမ်းအိမ်ယာ(၂) ထပ် အဆောက်အဦ (၁) လုံး၊ စုစုပေါင်းအဆောက်အဦ (၄) လုံးတည်ဆောက်ကာ လုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

( ဂ) အဆိုပြုလုပ်ငန်းမှထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် တိရစ္ဆာန်အစားအစာတန်ချိန် (၄) သောင်းကျော်မှ နှစ် (၃၀) အတွင်း တန်ချိန် (၁) သိန်းကျော်အထိ ဈေးကွက်အပေါ်မူတည်ကာ တိုးမြှင့်ထုတ်လုပ်မည်ဖြစ်ပြီး ထုတ်လုပ်မှု၏ (၈၀%) အားပြည်တွင်းနှင့် (၂၀%) အား ပြည်ပသို့ တင်ပို့ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) လိုအပ်သောရေအား မြေအောက်မှ ထုတ်ယူအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) ကိုလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) New Hope (Mandalay) Company Limited မှ ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန်အစားအစာ၊ တိရစ္ဆာန်အစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြေပြုပြင်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ စွန့်ပစ်မြေဇာပုံနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအား စနစ်တကျ ထုတ်ယူသုံးစွဲမှု မရှိခြင်းကြောင့် မြေအောက်ရေအရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(ဃ) အလုပ်သမားများ၏စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(င) တိရစ္ဆာန်အစားအစာ အမျိုးမျိုးထုတ်လုပ်ရာတွင် စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာမည့် ဆူညံသံနှင့် မီးခိုးခေါင်းတိုင်မှ ထွက်ရှိလာမည့် အခိုးအငွေ့များ၊ အသုံးပြုသည့် ဓါတုပစ္စည်းများ၊ ဆေးဝါးများရောစပ်ခြင်း၊ ကုန်ကြမ်း/ကုန်ချောများ သိုလှောင်ခြင်း၊ ထုတ်ပိုးခြင်း၊ သယ်ယူပို့ဆောင်ခြင်းတို့ကြောင့် ထွက်ပေါ်လာမည့် အနံ့များ၊ စက်ရုံလည်ပတ်ရာတွင်လုပ်ငန်းအဆင့်ဆင့်မှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များကြောင့် စက်ရုံ အလုပ်သမားများအပါအဝင် ဒေသခံပြည်သူလူထု၏ ကျန်းမာရေးနှင့် ပတ်ဝန်းကျင်ထိခိုက်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ New Hope (Mandalay) Company Limited မှ ကြက်၊ ဘဲအစားအစာ၊ ငါး၊ ပုစွန်အစားအစာနှင့် တိရစ္ဆာန်အစာများပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း(**Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်းအစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းအပိုဒ် (၆၃)ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ(EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲ တင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

ACCOUNTING AND CORPORATE REGULATORY AUTHORITY
(ACRA)

bizFILE

## INFORMATION RESOURCES

WHILST EVERY ENDEAVOR IS MADE TO ENSURE THAT INFORMATION PROVIDED IS UPDATED & CORRECT. THE AUTHORITY DISCLAIMS ANY LIABILITY FOR ANY DAMAGE OR LOSS THAT MAY BE CAUSED AS A RESULT OF ANY ERROR OR OMISSION.

Business Profile (Company) of NEW HOPE SINGAPORE PTE. LTD. (201026329E)

Date: 27/03/2015

### The Following Are The Brief Particulars of :

| | |
|---|---|
| Registration No. : | 201026329E |
| Company Name. : | NEW HOPE SINGAPORE PTE. LTD. |
| Former Name if any : | |
| Incorporation Date : | 13/12/2010 |
| Company Type : | LIMITED PRIVATE COMPANY |
| Status : | Live Company |
| Status Date : | 13/12/2010 |

### Principal Activities

| | |
|---|---|
| Activities (I) : | 46900 |
| Description : | GENERAL WHOLESALE TRADE (INCLUDING GENERAL IMPORTERS AND EXPORTERS) |
| Activities (II) : | 64202 |
| Description : | OTHER INVESTMENT HOLDING COMPANIES |

### Capital

| Issued Share Capital (AMOUNT) | Number of shares | Currency | Share Type |
|---|---|---|---|
| 121050503.00 | 121050503 | SINGAPORE, DOLLARS | ORDINARY |

*** Number of Shares includes number of Treasury Shares**

| Paid-Up Capital (AMOUNT) | Number of shares | Currency | Share Type |
|---|---|---|---|
| 121050503.00 | | SINGAPORE, DOLLARS | ORDINARY |

COMPANY HAS THE FOLLOWING ORDINARY SHARES HELD AS TREASURY SHARES

| Number Of Shares | Currency |
|---|---|

| | |
|---|---|
| Registered Office Address : | 2 KALLANG AVENUE<br>#07-33<br>CT HUB<br>SINGAPORE (339407) |
| Date of Address : | 01/05/2014 |

**INFORMATION RESOURCES**



**Business Profile (Company) of NEW HOPE SINGAPORE PTE. LTD. (201026329E)** **Date: 27/03/2015**

| | | |
|---|---|---|
| Date of Last AGM | : | 29/08/2014 |
| Date of Last AR | : | 22/09/2014 |
| Date of A/C Laid at Last AGM | : | 31/12/2013 |
| Date of Lodgment of AR, A/C | : | 22/09/2014 |

**Audit Firms**

| NAME |
|---|
| MAZARS LLP |

**Charges**

| Charge No. | Date Registered | Currency | Amount Secured | Chargee(s) |
|---|---|---|---|---|

ACCOUNTING AND CORPORATE REGULATORY AUTHORITY (ACRA) **bizFILE**

**INFORMATION RESOURCES**

WHILST EVERY ENDEAVOR IS MADE TO ENSURE THAT INFORMATION PROVIDED IS UPDATED & CORRECT. THE AUTHORITY DISCLAIMS ANY LIABILITY FOR ANY DAMAGE OR LOSS THAT MAY BE CAUSED AS A RESULT OF ANY ERROR OR OMISSION.

**Business Profile (Company) of NEW HOPE SINGAPORE PTE. LTD. (201026329E)** Date: 27/03/2015

**Officers/Agents**

| Name / Address | ID | Nationality / Position Held | Source of Address | Date of Appointment |
|---|---|---|---|---|
| DU JIANGPING<br>#05-03, UNIT 4, NO.21 BIAO FANG STREET, SHUN QING DISTRICT, NAN CHONG, SICHUAN PROVISION, CHINA. | E35225324 | CHINESE<br>DIRECTOR | ACRA | 09/03/2015 |
| CHANG SUYIN<br>121 JURONG EAST STREET 13<br>#01-63<br>IVORY HEIGHTS<br>SINGAPORE (600121) | S1329836Z | SINGAPORE CITIZEN<br>SECRETARY | ACRA | 13/12/2010 |
| LI WEI<br>126A KIM TIAN ROAD<br>#15-507<br>SINGAPORE (161126) | S2761146Z | SINGAPORE CITIZEN<br>DIRECTOR | ACRA | 10/11/2011 |
| LIU CHANG<br>126A KIM TIAN ROAD<br>#15-507<br>SINGAPORE (161126) | S8063889B | SINGAPORE CITIZEN<br>DIRECTOR | ACRA | 13/12/2010 |
| LIU CHANG<br>126A KIM TIAN ROAD<br>#15-507<br>SINGAPORE (161126) | S8063889B | SINGAPORE CITIZEN<br>MANAGING DIRECTOR | ACRA | 10/11/2011 |

ACCOUNTING AND CORPORATE REGULATORY AUTHORITY
(ACRA) bizFILE

## INFORMATION RESOURCES

WHILST EVERY ENDEAVOR IS MADE TO ENSURE THAT INFORMATION PROVIDED IS UPDATED & CORRECT. THE AUTHORITY DISCLAIMS ANY LIABILITY FOR ANY DAMAGE OR LOSS THAT MAY BE CAUSED AS A RESULT OF ANY ERROR OR OMISSION.

**Business Profile (Company) of NEW HOPE SINGAPORE PTE. LTD. (201026329E)** Date: 27/03/2015

**Shareholder(s)**

| | Name / Address | ID | Nationality/Place of Incorporation/Origin | Source of Address | Address Changed |
|---|---|---|---|---|---|
| 1 | NEW HOPE LIUHE CO., LTD | T10UF3854D | | ACRA | |
| | JIN SHI ROAD 376#, JIN JIANG INDUSTRY PARK, CHENGDU CITY, SICHUAN PROVINCE, CHINA | | | | |

| Ordinary (Number) | Currency |
|---|---|
| 121050503 | SINGAPORE, DOLLARS |

**Abbreviation**

UL - Local Entity not registered with ACRA

UF - Foreign Entity not registered with ACRA

V/Share - Value Per Share

AR - Annual Return

AGM - Annual General Meeting

A/C - Accounts

OSCARS - One Stop Change of Address Reporting Service by Immigration & Checkpoint Authority.

PLEASE NOTE THAT INFORMATION HEREIN CONTAINED IS EXTRACTED FROM FORMS/TRANSACTIONS FILED WITH THE AUTHORITY

INFORMATION RESOURCES



Business Profile (Company) of NEW HOPE SINGAPORE PTE. LTD. (201026329E)

Date: 27/03/2015

FOR REGISTRAR OF COMPANIES AND BUSINESSES
SINGAPORE

RECEIPT NO. : ACR0001032763830

DATE : 27/03/2015

This is computer generated. Hence no signature required.